


# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်



# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၃၀၅/ ၉၉ ၁၉၉၉ ခုနှစ်၊ ဇူလိုင်လ ၁၉ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးဇော်လင်း

(ခ) အဘအမည် ဦးမှူး

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် LMDW - ၀၀၉၀၅၀

(ဃ) နေရပ်လိပ်စာ အမှတ်-၅၆၊ ဘုတာရုံလမ်း၊ မရမ်းကုန်းမြို့နယ်၊ သမိုင်း၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း မြကန်သာကုမ္ပဏီလီမိတက် (Mya Kan Thar Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား နိုင်ငံတကာအဆင့်မီ ရေဘဝဲဘာသစ် ထုတ်လုပ်ခြင်းလုပ်ငန်း။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မှန်ပြည့်နယ်၊ ရေးမြို့နယ်၊ မော့ကနင် ကျေးရွာအုပ်စု၊ သမှိုင်းကွင်း၊ ကွင်းအမှတ်(၁၀၆၃)၊ ဦးပိုင်အမှတ်အင်န်၁၀

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၇၄.၈သန်း (ကျပ်ခုနှစ်ဆယ့်လေးသန်း၊ ရှစ်သိန်းဘိတ်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
အမိန့် ကြော်ငြာစာအမှတ်၊ ၁ ၀၃/၉၉ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၁ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၁ ၂ ရက်။
(၁၉၉၉ ခုနှစ်၊ နိုဝင်ဘာလ ၁၉ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော မြကန်သာ ကုမ္ပဏီ လီမိတက် (Mya Kan Thar Co., Ltd.) သည် မွန်ပြည်နယ်၊ ရေးမြို့နယ်၊ မော့ကနင်ကျေးရွာ၊ သချိုင်းကွင်း၊ ကွင်းအမှတ်(၁၀၆၃)၊ ဦးပိုင်အမှတ် အင်န်(၁၈)ရှိ (လ/န ၃၉) မြေ(၂.၀)ဧက (၈၀၉၃.၇၂ စတုရန်းမီတာ)တွင် စက်ရုံတည်ဆောက်ပြီး ရော်ဘာသစ် ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၁-၁၀-၉၉)နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၇/၉၉)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြ ခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက် နှင့်အညီ (၁၁-၁၁-၉၉) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄၀/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မြကန်သာ ကုမ္ပဏီ လီမိတက် (Mya Kan Thar Co., Ltd.)အား ရော်ဘာသစ် ထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၂၀၅/၉၉ ကို ထုတ်ပေးလိုက်သည်။

၂။ မြကန်သာ ကုမ္ပဏီ လီမိတက် (Mya Kan Thar Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည် ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစား နိုင်ရန် အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါလုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထား ရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဇ) ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေး ချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ထံသို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ မြကန်သာ ကုမ္ပဏီ လီမိတက် (Mya Kan Thar Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် သစ်ကုန်ကြမ်းများ ဝယ်ယူရန်အတွက် နိုင်ငံခြားငွေများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့် အခါ အဆိုပြု လုပ်ငန်းမှရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက် ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ မြကန်သာ ကုမ္ပဏီ လီမိတက် (Mya Kan Thar Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၇။ မြကန်သာ ကုမ္ပဏီ လီမိတက် (Mya Kan Thar Co., Ltd.)သည် ကုန်ချောပစ္စည်းများအား ပြည်ပသို့ တင်ပို့ရောင်းချရာတွင် သစ်တောရေးရာ ဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် မူဝါဒနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၈။ မြကန်သာ ကုမ္ပဏီ လီမိတက် (Mya Kan Thar Co., Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၉။ ကုမ္ပဏီ၏ အမည်ကို ဇက်ပီအင်(န်) ကုမ္ပဏီ လီမိတက်မှ မြကန်သာ ကုမ္ပဏီ လီမိတက် (Mya Kan Thar Co., Ltd.)အမည်သို့ တရားဝင် အမည်ပြောင်းလဲရန်အတွက် ကုမ္ပဏီများ ညွှန်ကြားမှု ဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီ၏ အမည်ကို တရားဝင်

ပြောင်းလဲပြီး သည့်အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ–အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ (Memorandum and Articles of Association)

၁၀။ မြကန်သာ ကုမ္ပဏီ လီမိတက် (Mya Kan Thar Co., Ltd.) မှ လုပ်ငန်း ဆောင်ရွက်မည့် ဇက်ပီအင်(န်) ကုမ္ပဏီ လီမိတက် အမည်ပေါက်ဖြင့် လန/၃၉ ခွင့်ပြုမိန့် ရရှိထားသောမြေအား မြကန်သာ ကုမ္ပဏီ လီမိတက် (Mya Kan Thar Co., Ltd.) အမည်ပေါက်ဖြင့် လန/၃၉ ခွင့်ပြုမိန့် ရရှိစေရေးအတွက် သက်ဆိုင်ရာဌာန/အဖွဲ့အစည်းများသို့ လျှောက်ထား ဆောင်ရွက်ရမည်။ အမည်ပေါက် ခွင့်ပြုမိန့် ရရှိပါက ဂရန်မိတ္တူ (၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြ ရမည်။

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၂။ မြကန်သာ ကုမ္ပဏီ လီမိတက် (Mya Kan Thar Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၃။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၄။ မြကန်သာ ကုမ္ပဏီ လီမိတက် (Mya Kan Thar Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၅။ မြကန်သာ ကုမ္ပဏီ လီမိတက် (Mya Kan Thar Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ –

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက–၁/မ–၃၈၄/၉၉( ၀၉ ၀၄ – ဣ )
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ နိုဝင်ဘာလ ၁၉ ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ မွန်ပြည်နယ် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီရုံး၊ မော်လမြိုင်မြို့။
၆။ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန။
၇။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၈။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၉။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၀။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၁။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၂။ သစ်တောရေးရာ ဝန်ကြီးဌာန။
၁၃။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ နှစ်ရှည်ပင် လုပ်ငန်း။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း။
၂၆။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၇။ အုပ်ချုပ်မှု ဒါရိုက်တာ၊ မြကန်သာ ကုမ္ပဏီ လီမိတက် (Mya Kan Thar Co., Ltd.)။

အမိန့်အရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး